




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၉၉/၉၇ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာ လ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးစိုးထွန်းအောင်

(ခ) အဘအမည် ဦးစိန်ထွန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဒပန(နိုင်)၀၄၀၀၅၀

(ဃ) နေရပ်လိပ်စာ အမှတ် ၅၇(ဘီ)၊ အခန်း(၃-၂)၊ ရှမ်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အက်စ်၊ ဗွီ၊ ရီဆော့တ် ကုမ္ပဏီလီမိတက် ( S.V Resort Co., Ltd )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ပုဂံ ဂေါက်ကွင်းဟိုတယ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းသုတေသနဝင်း၊ ဦးပိုင်အမှတ် ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၃၈၊ ၃၉၊ ၄၀ အကွက်အမှတ် ၁၅၁၆ ဘုရားစုကွင်း၊ မင်းနန်သူရပ်ကွက်၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၃၀.၀ သန်း ( ကျပ်သန်းနှစ်ရာသုံးဆယ်တိတိ )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့် ကြော်ငြာစာအမှတ်၊ ၄၆/၉၇

ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၄ ရက်။

(၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၂၈ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) သည် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့ စိုက်ပျိုးရေး လုပ်ငန်းပိုင် မန္တလေးတိုင်း၊ ညောင်ဦးမြို့နယ်၊ မင်းနန်သူရပ်ကွက်၊ ဘုရားစုကွင်း၊ မြန်မာ့ စိုက်ပျိုးရေး သုတေသနဝင်း၊ ဦးပိုင်အမှတ် ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၃၈၊ ၃၉၊ ၄၀၊ အကွက်အမှတ် ၁၅၁၆ ရှိ မြေ (၈.၂) ဧက (၃၃၁၈၄.၂၅ စတုရန်းမီတာ) အား ကနဦးနှစ်(၃၀) ငှားရမ်း၍ B.O.T စံနစ်ဖြင့် နိုင်ငံတကာ ကြယ်လေးပွင့် အဆင့်မီ အခန်း(၄၈)ခန်းပါ (၃) ထပ် ဟိုတယ် (၁)လုံး နှင့် အခန်း(၅၄)ခန်းပါ (၁) ထပ် ဟိုတယ် (၇)လုံးပါ ပုဂံ ဂေါက်ကွင်း ဟိုတယ် တည်ဆောက်၍ ဟိုတယ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၇-၁၀-၉၇) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၂၀-၁၁-၉၇) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၃၉/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) အား ဟိုတယ်လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၀၉၉/၉၇ ကို ထုတ်ပေးလိုက်သည်။

၂။ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု

ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်းအခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၃(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း **(Source of Payments for Import)** ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ **(Loan and Credits)**၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် **(Buy-back System)** စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက်အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ငွေဖြင့်သာ ပေးဆပ်ရန်။

၄။ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) ကို မြန်မာကုမ္ပဏီများ အက်ဥပဒေ နှင့် အညီ မှတ်ပုံတင် နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက် ဖော်ပြပါ စာရွက်စာတမ်း (၅)စောင်စီကို ဤကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှုဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် အငှားချထားသူ မြန်မာ့စိုက်ပျိုးရေး လုပ်ငန်း နှင့် အငှားချထားခြင်း ခံရသူ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) တို့ ချုပ်ဆိုမည့် (B.O.T) စံနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူ စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင် ကို ဤကော်မရှင်သို့ တင်ပြရမည်။

၆။ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စိုက်ပျိုးရေး လုပ်ငန်း နှင့် အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) တို့ ချုပ်ဆိုမည့် (B.O.T) စံနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်၏ သက်တမ်းကာလမှာ ကနဦးအနှစ်(၃၀) ဖြစ်ပြီး၊ နောက်ထပ် ၅နှစ် ၃ကြိမ် တိုးမြှင့်ခွင့်ပြုသည်။

၇။ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.)သည်၊ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် နှစ် (၃၀) အတွက် တစ်ဧကလျှင် ကျပ် (၃.၇၅)သိန်း နှုန်းဖြင့် စုစုပေါင်း ကျပ်

(၃၀.၇၅)သန်း ကို ပထမ အရစ် အဖြစ် ကျပ် (၁၀.၂၅) သန်း ကို စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှ စ၍ တစ်လ အတွင်း လည်းကောင်း၊ ဒုတိယ အရစ် အဖြစ် ကျပ် (၁၀.၂၅) သန်း ကို စာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှ စ၍ ခြောက်လ အတွင်း လည်းကောင်း၊ တတိယ အရစ် အဖြစ် ကျပ် (၁၀.၂၅) သန်း ကို စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှ စ၍ တစ်နှစ် အတွင်း လည်းကောင်း ပေးချေရမည်။

၈။ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) သည် နှစ်စဉ်မြေငှားရမ်းခ အဖြစ် ဟိုတယ်လုပ်ငန်းမှ ရရှိသော စုစုပေါင်း ဝင်ငွေ၏ (၅) ရာခိုင်နှုန်းကို နှစ်ကုန်ဆုံးပြီး (၃) လ အတွင်း ပေးချေရမည်။ ထိုသို့ မြေငှားရမ်းခ ပေးချေရာတွင် နိုင်ငံခြားငွေဖြင့် ရရှိသော ဝင်ငွေ၏ (၅) ရာခိုင်နှုန်း ကို နိုင်ငံခြားငွေဖြင့် လည်းကောင်း၊ ကျပ်ငွေဖြင့် ရရှိသော ဝင်ငွေ၏ (၅) ရာခိုင်နှုန်း ကို ကျပ်ငွေဖြင့် လည်းကောင်း ပေးချေရမည်။

၉။ ထို့ကဲ့သို့ နှစ်စဉ်မြေငှားရမ်းခ ပေးချေရာတွင် အခန်းပေါင်း (၄၈) ခန်း အတွက် နိုင်ငံခြားငွေဖြင့် ရရှိသော ဝင်ငွေ၏ (၅) ရာခိုင်နှုန်း သို့မဟုတ် အမေရိကန်ဒေါ်လာ (၁၅၀၀၀)၊ ထိုငွေ နှစ်ရပ်အနက် များရာကို လည်းကောင်း၊ အခန်းပေါင်း (၁၀၂) ခန်း အတွက် နိုင်ငံခြားငွေဖြင့် ရရှိသော ဝင်ငွေ၏ (၅) ရာခိုင်နှုန်း သို့မဟုတ် အမေရိကန်ဒေါ်လာ (၃၀၀၀၀)၊ ထိုငွေ နှစ်ရပ်အနက် များရာကို လည်းကောင်း နိုင်ငံခြားငွေဖြင့် ပေးချေရမည်။

၁၀။ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) သည် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးပြီးနောက် (၃)လအတွင်း မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦ နှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းများကို ကောင်းမွန်သော အနေအထားအတိုင်း မြန်မာ့ စိုက်ပျိုးရေး လုပ်ငန်းသို့ အဖိုးစားနားမဲ့ပြန်လည် လွှဲပြောင်းပေးရမည်။

၁၁။ ရင်းနှီးမြှုပ်နှံသူ အနေဖြင့် မြေအသုံးပြုမှု နှင့် ပတ်သက်၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ဂတိပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ၇က–၁/မ–၁၅၀/၉၇ (၁၄၄၃)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၂၈ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

အလုပ်သမား ဝန်ကြီးဌာန။
၉။ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန။
၁၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။ .
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ စိုက်ပျိုးရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေး စီမံကိန်း ဦးစီးဌာန။
၂၀။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဒါရိုက်တာ၊ အက်(စ်)၊ ဗွီ၊ ရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီး ချုပ်ရုံး
ရန်ကုန်မြို့။

စာအမှတ်၊ (ဒု)၀၁၇/ရင်းနှီး/၁(၄၅၂)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၁၃ ရက်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ ။ <u>အက်(စ်)ဗွီရီဆော့(တ်)ကုမ္ပဏီလီမိတက်တည်ထောင်၍ B.O.T စနစ်ဖြင့်ဟိုတယ်ဆောက်လုပ်၍ဟိုတယ် လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော အက်(စ်)၊ ဗွီရီဆော့(တ်)ကုမ္ပဏီလီမိတက် ( S . V Resort Co., Ltd . - ) သည်မြန်မာ့စိုက်ပျိုးရေး လုပ်ငန်း ပိုင်မြေကိုငှားရမ်း၍ B.O.T စနစ်ဖြင့်ပုဂံဂေါက်ကွင်း ဟိုတယ်တည်ဆောက်၍ဟိုတယ်လုပ်ငန်း ကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၇-၁၀-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၉၇) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှလုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်း ဆုံးဖြတ်ချက်အရအစိုးရအဖွဲ့သို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ B.O.T စနစ်ဖြင့်မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)၊ ရွှေနေချုပ်ရုံး၏သဘောထားမှတ်ချက်၊ စက်ပစ္စည်းနှင့်ဆောက်လုပ်ရေးပစ္စည်းများ ဝယ်ယူရန်ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ်(မူကြမ်း)တို့ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ်ပေးပို့ထားပါသည်။

လျှို့ဝှက်

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၅.၀) သန်း အပါအဝင် ကျပ် (၂၃၀.၀၀) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၅၀.၀၀) သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၁၅၀.၀၀) သန်း နှင့် စက်ပစ္စည်း နှင့် ကုန်ကြမ်း ပစ္စည်း တန်ဖိုး ကျပ် (၃၀.၀၀) သန်း [အမေရိကန်ဒေါ်လာ (၅.၀) သန်း] ထည့်ဝင်ရင်းနှီး မည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် ဆောက်လုပ်ရေး ပစ္စည်း များ ကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ ဟောင်ကောင်ရှိ BonAnza Asia Ltd. မှ ရွှေဆိုင်း ငွေပေး ချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း (၈) ရာခိုင်နှုန်းဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေး ဆပ် ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် လယ်ယာ စိုက်ပျိုး ရေး နှင့် ဆည်မြောင်း ဝန်ကြီး ဌာန၊ မြန်မာ့စိုက်ပျိုး ရေး လုပ်ငန်း ပိုင် မန္တလေးတိုင်း ညောင်ဦး မြို့နယ်၊ မင်း နန်သူ ရပ်ကွက်၊ ဘုရား ဒုကွင်း ၊ အကွက်အမှတ် ၁၅၁၆၊ ဦး ပိုင်အမှတ် ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၃၈၊ ၃၉၊ ၄၀၊ မြန်မာ့စိုက်ပျိုး ရေး သုတေသန ဝင်း အတွင်း ရှိ မြေအကျယ် ၈.၂ ဧက (၃၃၁၈၇.၂၅၂ စတုရန်း မီတာ) ပေါ် တွင် နှစ် (၃၀) ငှား ရမ်း ၍ B.O.T စနစ်ဖြင့်ဟိုတယ်တည် ဆောက်၍ ဟိုတယ် လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ S.V Resort Co., Ltd. နှင့်မြန်မာ့စိုက်ပျိုး ရေး လုပ်ငန်း တို့ ချုပ်ဆိုမည့် B.O.T စနစ် မြေငှား ရမ်း ခြင်း သဘောတူစာချုပ် (မူကြမ်း) ပါအဓိက အချက်များ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) မြေငှား ရမ်း ခြင်း သက်တမ်း မှာ ကနဦး (၃၀) နှစ် ဖြစ်ပြီး ထပ်မံငှား ရမ်း လိုပါက နောက်ထပ် (၅) နှစ် (၃) ကြိမ် သက်တမ်း တိုး မြှင့် ဆောင်ရွက်ခွင့်ရှိပါသည်။

(ခ) ဤလုပ်ငန်း မှ နိုင်ငံတကာ ကြယ်လေး ပွင့်အဆင့်၊ အခန်း (၄၈) ခန်း ပါ (၃) ထပ်အမြင့်ရှိဟိုတယ် (၁) လုံး နှင့် အခန်း (၅၄) ခန်း ပါ (၁) ထပ်ဟိုတယ် (၇) လုံး တို့ကို တည် ဆောက်မည်ဖြစ်ပြီး ၊ ကနဦး အခန်း (၄၈) ခန်း

ပါဟိုတယ်ဖြင့်စတင်ဆောင်ရွက်ရန်ဖြစ်ပြီး ဒုတိယအဆင့်တွင် အခန်းပေါင်း (၁၀၂) ခန်း အထိကို ခွဲ၍ဆောင်ရွက်မည် ဖြစ်ပါသည်။

(ဂ) မြေအသုံးချမှုပရိုဂျက်ကြေး အဖြစ်နှစ်(၃၀)အတွက်(၁) ဧကလျှင်ကျပ်(၃.၇၅သန်း) နှုန်းဖြင့်စုစုပေါင်း ကျပ် (၃၀.၇၅) သန်း ကိုပထမအရစ်အဖြစ်ကျပ်(၁၀.၂၅) သန်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၁) လ အတွင်းလည်းကောင်း၊ ဒုတိယအရစ်အဖြစ်ကျပ်(၁၀.၂၅) သန်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၆) လ အတွင်းလည်းကောင်း၊ တတိယအရစ်အဖြစ်ကျပ်(၁၀.၂၅) သန်းကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍တစ်နှစ်အတွင်းလည်းကောင်း ပေးချေရမည်ဖြစ်ပါသည်။

(ဃ) နှစ်ရှည်မြေငှားရမ်းခအဖြစ်ဟိုတယ်လုပ်ငန်းမှရရှိသော စုစုပေါင်းဝင်ငွေ(ကျပ် + နိုင်ငံခြား)၏(၅)ရာခိုင်နှုန်းကိုနှစ်ကုန်ဆုံးပြီး (၃)လအတွင်း ပေးချေရမည် ဖြစ်ပါသည်။ ထိုသို့မြေငှားရမ်းခပေးချေရာတွင်နိုင်ငံခြားငွေဖြင့်ရရှိသောဝင်ငွေ၏(၅)ရာခိုင်နှုန်းကို နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်ရရှိသော ဝင်ငွေ၏(၅)ရာခိုင်နှုန်းကိုကျပ်ငွေဖြင့်လည်းကောင်း ပေးချေရမည်ဖြစ်ပါသည်။

(င) နှစ်ရှည်မြေငှားရမ်းခပေးချေရာတွင်အခန်းပေါင်း (၄၇) ခန်းအတွက်နိုင်ငံခြားငွေဖြင့်ရရှိသောဝင်ငွေ၏(၅)ရာခိုင်နှုန်း (သို့) အမေရိကန်ဒေါ်လာ(၁၅၀၀၀)၊ ထိုငွေနှစ်ရပ်အနက်များရာကိုလည်းကောင်း၊ အခန်းပေါင်း (၁၀၂) ခန်းအတွက်နိုင်ငံခြားငွေဖြင့်ရရှိသော ဝင်ငွေ၏(၅)ရာခိုင်နှုန်း (သို့) အမေရိကန်ဒေါ်လာ (၃၀၀၀၀)၊ ထိုငွေနှစ်ရပ်အနက်များရာကိုလည်းကောင်း

နိုင်ငံခြားငွေဖြင့်ပေး ချေရမည်ဖြစ်ပါသည်။

(၁) သဘောတူစာချုပ်ပါငှားရမ်းခြင်း ကာလကုန်ဆုံးပြီး နောက်(၃)လအတွင်း မြေနှင့်တကွ အဆောက်အဦအပါ အဝင်အဆောက်အဦးနှင့်ဆက်စပ်ပတ်သက်နေသော၊ ပစ္စည်းများ ကောင်းမွန်သောအနေအထား အတိုင်း မြန်မာ့ရိုက်ကူးရေး လုပ်ငန်းသို့အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေး ရမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းတွင်(၃)ထပ်အမြင့်ရှိပြီး အခန်း (၄၈) ခန်းပါ ဟိုတယ်(၁)လုံး နှင့်အခန်း (၅၄) ခန်း ပါ(၁)ထပ်ဟိုတယ်(၇)လုံး ပါရှိမည် ဖြစ်ပြီး ဟိုတယ်၏ဝင်ငွေကိုခန့်မှန်း တွက်ချက်ရာတွင်တည်း ခိုသည့်နှုန်း ကိုပုံမှန်နှစ် တွင် နိုင်ငံခြား ငွေဖြင့်(၂၀) ရာခိုင်နှုန်း ဖြင့်လည်း ကောင်း၊ ကျပ်ငွေဖြင့်( ၇၅ ) ရာခိုင်နှုန်း ဖြင့်လည်း ကောင်း၊ အသီး သီး တွက်ချက်ထား ပါသည်။

၆။ ဤလုပ်ငန်း ကိုဆောင်ရွက်ခြင်း ဖြင့်ကုမ္ပဏီမှ ပုံမှန်နှစ်တွင်ရရှိ မည့်ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | ပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၅.၃၄ | ၂၃.၅၅ | ၄၈.၈၉ |
| (ခ) | အသုံးစရိတ် | ၂၅.၀၉ | ၁၀.၇၉ | ၃၅.၈၈ |
| (ဂ) | အသားတင်အမြတ် | ၀.၂၅ | ၁၂.၇၆ | ၁၃.၀၁ |

၇။ ဤလုပ်ငန်း ကိုဆောင်ရွက်ခြင်း ဖြင့်နိုင်ငံတော်မှပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ဝင်ငွေခွန်(အမေရိကန်ဒေါ်လာသန်း) | ၀.၃၈ |
| | (ကျပ်သန်း) | ၀.၁၀ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန်(အမေရိကန်ဒေါ်လာသန်း) | ၀.၃၉ |
| | (ကျပ်သန်း) | ၂.၅၃ |
| (ဂ) | မြေငှားရမ်းခရငွေ(အမေရိကန်ဒေါ်လာသန်း) | ၀.၂၀ |
| | (ကျပ်သန်း) | ၁.၂၇ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်း မှဝန်ထမ်း (၁၀၀)ဦး နှင့်ပြည်ပမှ (၄) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်း သည်မြန်မာနိုင်ငံသား များ သာလျှင်ပိုင်ဆိုင်သော လုပ်ငန်း ဖြစ်ပြီး နိုင်ငံခြား မှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း နှင့်ဟိုတယ်တွင် တပ်ဆင်ထား ရှိမည့် Games များ သည် လောင်း ကစား ဥပဒေနှင့်ငြိစွန်း မှုမရှိ စေရန်ထား ရှိမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေး ထား ပါသည်။

၁၀။ မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။ ဥပဒေပုဒ်မ ၁၂ အရစီး ပွား ရေး လုပ်ငန်း စတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်ဝင်ငွေခွန်ကင်း လွတ်ခွင့် ပေး ရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ အနက်လုပ်ငန်း နှင့်သင့်လျော်သော အခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန် ကော်မရှင်မှညှိနှိုင်းဆုံး ဖြတ်ခဲ့ပါသည်။

၁၁။ <u>ဆုံး ဖြတ်ရန်အချက်။</u>

(က) အက်(ဒ်)၊ ဗွီရီဆော့(ဖ်)ကုမ္ပဏီလီမိတက်တည် ထောင်၍၊ B.O.T စနစ်ဖြင့်ဟိုတယ်ဆောက်လုပ်၍ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ရန်သဘောတူပါကမြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန် ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့် ပြုရန်သဘောတူ - မတူ။

၁၂။ **ဒုတိယဝန်ကြီးချုပ်ရုံး၏ထောက်ခံချက်။**

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ်မောင်မောင်]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



* အေး * ၁၉–၁၈–၉၇

၀၉၉/၉၇

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912

Fax 095-01-282101

စာအမှတ်၊ ရက-၁/မ-၁၅၀/၉၇ (၁၆၃၀)

ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၅ ရက်။

အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။

၁။ အက်စ်၊ ဗွီရီဆော့(တ်) ကုမ္ပဏီ လီမိတက် (S.V Resort Co., Ltd)မှ ဟိုတယ်တည်ဆောက်ပြီး၊ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၉၇) ကြိမ်မြောက် ကြို့တင်ညှိနှိုင်း အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့်ပတ်သက်၍ တည်ဆောက်ရေး ကာလ အတွင်း Saloon ၁(တစ်)စီး၊ Mini-bus ၁(တစ်)စီး နှင့် Pick-up ၁(တစ်)စီး တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Saloon ၁(တစ်)စီး၊ Mini-bus ၁(တစ်)စီး နှင့် Pick-up ၁(တစ်)စီးတို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုရန် နှင့် တင်သွင်းမည့် စက်ပစ္စည်းစာရင်းတွင် Air Conditioner ၁၃၅(တစ်ရာသုံးဆယ့်ငါး) လုံး၊ Refrigerator ၁၃၅(တစ်ရာသုံးဆယ့်ငါး) လုံး၊ TV/Radio System ၁၃၅(တစ်ရာသုံးဆယ့်ငါး)စုံ၊ Cable TV ၄(လေး)စုံ၊ Telephone ၁၃၅(တစ်ရာသုံးဆယ့်ငါး)လုံး၊ Golf Cart ၆(ခြောက်)စီးတို့ကို တင်သွင်းခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့်မော်တော်ယာဉ်များ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

ဒါရိုက်တာ၊
အက်စ်၊ ဗွီရီဆော့(တ်) ကုမ္ပဏီ လီမိတက်။

မိတ္တူကို -

(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
(၄) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ဝင် (ညွှန်ကြားရေးမှူးချုပ်၊ မဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၅) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၇) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
(၈) ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြား ဦးစီးဌာန။

16/12/97
E.O.
16-12-97
296375 / 296370
81, Thein Phyu Road
Ygn.

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၀/ပုံ (၉၇) (၆၅၄/၉၇)
ရက်စွဲ ၊ ၁၉၉၇ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်

အကြောင်းအရာ။ ။ **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနဟိုတယ်နှင့်တည်းခိုရိပ်သာတည် ဆောက်ရေးလုပ်ငန်း ခွင့်ပြုမိန့်တွင်ပါရှိသောလုပ်ငန်းရှင် အမည်ပြောင်းပေးရေးကိစ္စ။**

ရည်ညွှန်းချက်။ ။ (၁) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန ဝန်ကြီးရုံး၏ ၂၂၊ ၇၊ ၉၇ နေ့ ရက်စွဲပါ စာအမှတ် ၁၈၇၂ ၉၇/ ၂၃၁
(၂) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း နှင့် S.V Resort .Co Ltd တို့၏မြေငှားသဘောတူစာချုပ် (ပူးတွဲ)

၁။ လယ်စိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းသုတေသနဝင်း၊ ညောင်ဦးမြို့ မြို့နယ်ရှိ ပုဂံဂေါက်ကွင်းဟိုတယ်အားဟိုတယ်နှင့်ခရီးသွားလာ ရေးလုပ်ငန်းဝန်ကြီးဌာန မှဟိုတယ်နှင့်တည်း ခိုရိပ်သာတည် ဆောက်ရေးလုပ်ငန်း ခွင့်ပြုမိန့်ကိုရည်ညွှန်းချက်(၁) ပါစာဖြင့် ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ရာတွင် အဆိုပါဟိုတယ်တည်ဆောက်မည့် မြေနေရာအားမြန်မာနိုင်ငံ သားပိုင် S.V Resort Co, Ltd သို့ ငှားရမ်းဆောင်ရွက်ရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ ၈၊ ၁၀၊ ၉၇ ရက်နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကောင်မရှင်၏ (၁၇/၉၇) ကြိမ်မြောက် ညှိနှိုင်းအစည်းအဝေးမှ ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဟိုတယ်တည်ဆောက်ရေးလုပ်ငန်းကို S.V Resort Co Ltd မှ ဆက်လက်ဆောင်ရွက်မည်ဖြစ်ပါသဖြင့် ဟိုတယ်နှင့်တည်းခိုရိပ်သာတည်ဆောက်ရေးလုပ်ငန်း ခွင့်ပြုမိန့်တွင် ဖော်ပြထားသောလုပ်ငန်းရှင်အမည် လယ်ယာစိုက်ပျိုးရေးဝန်ကြီးဌာနအစား S.V Resort Co, Ltd အမည်သို့ပြောင်းလဲ ပြင်ဆင်ဆောင်ရွက်ခွင့်ပြု ပါရန်ခွင့်ပြုမိန့် မူရင်းနှင့်အတူမေတ္တာရပ်ခံပေးပို့အပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
(ဒေါက်တာမြမောင်ညွှန်ကြားရေးမှူးချုပ်)

ရုံးအဖွဲ့မှူး
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

မိတ္တူကို – မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး ။
– ရုံးအဖွဲ့မှူး ၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန ။
– ဦးဌာမင်း S.V Resort Co.Ltd
– ရုံးလက်ခံ ။
– မျှောစာတွဲ ။

| အမှတ်စဉ် | ဆွေးနွေးချက်နှင့် ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁။ | <u>အက်စ်၊ ဗွီရီဆော့(တ်)ကုမ္ပဏီလီမိတက် ( S.V Resort Co., Ltd. ) သည် ထောင်၍ ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ</u>။<br><br>ကော်မရှင်၏ ၁၄-၁၀-၉၇ ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/၀၀၇/၉၇(၁၁၃၄)။<br><br>ညွှန်ကြားရေးမှူး ဦးသင်း မောင်ကအမှတ် ၁၀.၁ ကို ရှင်းလင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က ပြည်ပမှတင်သွင်း ခွင့်ပြုသည့်ဝက်ပစ္စည်း များ တွင် Aircondition များ ပါဝင်ရာအခန်း များ ၏အငှားခ အား နှင့်လိုက် လျောသည့် ထောက်ကိုက်ပါမှုရှိ-မရှိကို နိုင်ငံခြား မတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ဝယ်အနေဖြင့်စိစစ်ရန်ဖြစ် ကြောင်း၊ ~~ကော်မရှင်အ နေဖြင့်အ ရေအတွက်ကို ခွင့်ပြုမည်ဖြစ်ပြီး~~ ပြည်ပမှတင်သွင်း လာမည့်ဝက်ပစ္စည်း များ နှင့်ဝပ်ချဉ်း ၍ ဆောင်ရွက်မည့်လုပ်ငန်း နှင့်လိုက် လျောညီ ထွေသိ လျော်မှုရှိ-မရှိ ကို နိုင်ငံခြား မတည် ငွေရင်း တန်ဖိုးသတ်မှတ် ရေး အဖွဲ့ဝယ်အ နေဖြင့် စိစစ်ရန်ဖြစ် ကြောင်း ပြောကြား ပါသည်။<br><br><u>ဆုံးဖြတ်ချက်</u><br><br>(၁) အက်စ်ဗွီရီဆော့(တ်)ကုမ္ပဏီလီမိတက် (S.V Resort Co.,Ltd ) သည် ထောင်၍ ဟိုတယ် ဆောက်လုပ်ပြီးဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စအား ကော်မရှင်မှ မူအား ဖြင့်သဘောတူညီသဖြင့်အစိုးရ အဖွဲ့သို့ဆက်လက်တင်ပြရန်၊ | <br><br><br><br><br><br><br><br><br><br><br><br><br><br>အတွင်းရေးမှူး<br>လယ်ယာစိုက်ပျိုး ရေးနှင့်ဆည် မြောင်းဝန်ကြီး ဌာန။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၀၀၇/၉၇(၁၁၃၄)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

## အမှာစာ

အကြောင်းအရာ။ ။ အက်(စ်)၊ ဗွီရီဆော့(တ်)ကုမ္ပဏီလီမိတက်တည်ဆောင်၍ BOT စနစ်ဖြင့်ဟိုတယ်ဆောက်လုပ်၍ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အက်(စ်)၊ ဗွီရီဆော့(တ်)ကုမ္ပဏီလီမိတက် ( S.V Resort Co., Ltd. - ) သည်မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း ပိုင်မြေကိုငှားရမ်း၍ B.O.T စနစ်ဖြင့်ပုဂံဂေါက်ကွင်းဟိုတယ်တည်ဆောက်၍ဟိုတယ် လုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၈-၁၀-၉၇) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၉၇) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့် သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ဆက်လက် တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ B.O.T စနစ် ဖြင့်မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)၊ ရှေ့နေချုပ်ရုံး၏သဘော ထားမှတ်ချက်၊ စက်ပစ္စည်းနှင့်ဆောက်လုပ်ရေးပစ္စည်းများဝယ်ယူရန်ရွှေဆိုင်း ငွေပေးချေခြင်းစနစ်သဘောတူစာချုပ်(မူကြမ်း)နှင့်ငွေရေးကြေးရေးဆိုင် ရာအထောက်အထားများကို နောက်ဆက်တွဲ(၁) တွင်တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာနိုင်ငံခြားငွေ အမေ ရိကန်ဒေါ်လာ(၅.၀)သန်း အပါအဝင်ကျပ်(၂၃၀.၀၀)သန်း ဖြစ်ပါသည်။ ယင်း တွင်ငွေသား ကျပ်(၅၀.၀၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ်(၁၅၀.၀၀)သန်း နှင့်စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းတန်ဖိုး ကျပ်(၃၀.၀၀)သန်း [အမေရိကန် ဒေါ်လာ(၅.၀)သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့်ဆောက်

လုပ်ရေး ပစ္စည်း များ ကိုတရုတ်ပြည်သူ့သမ္မတနိုင်ငံ ဟောင်ကောင်ရှိ Bonanza Asia Ltd. မှ ရှေ့ဆိုင်း ငွေပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း (၈) ရာခိုင်နှုန်း ဖြင့်(၄) နှစ်အတွင်း ပြန်လည်ပေးဆပ် ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်လယ်ယာစိုက်ပျိုး ရေး နှင့် ဆည်မြောင်း ဝန်ကြီး ဌာန၊ မြန်မာ့စိုက်ပျိုး ရေး လုပ်ငန်း ပိုင်မန္တလေး တိုင်းညောင်ဦး မြို့နယ်၊ မင်း နန်သူရပ်ကွက်၊ ဘုရား စုကွင်း ၊ အကွက်အမှတ် ၁၅၁၆၊ ဦး ပိုင်အမှတ် ၂၀၊ ၂၂၊ ၂၃၊ ၂၄၊ ၃၀၊ ၃၉၊ ၄၀၊ မြန်မာ့စိုက်ပျိုး ရေး သုတေသန ဝင်း အတွင်း ရှိ မြေအကျယ်၈.၂၈ဧက(၃၃၁၈၄.၂၅၂၀တုရန်း မီတာ) ပေါ်တွင် နှစ်(၃၀) ငှား ရမ်း ၍B.O.T စနစ်ဖြင့်ဟိုတယ်တည် ဆောက်၍ဟိုတယ်လုပ် ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ S.V Resort Co., Ltd. – နှင့်မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း တို့ချုပ်ဆိုမည့် B.O.T စနစ် မြေငှား ရမ်း ခြင်း သဘောတူစာချုပ်(မူကြမ်း) ပါအဓိကအချက်များ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) မြေငှား ရမ်း ခြင်း သက်တမ်း မှာကနဦး(၃၀)နှစ် ဖြစ်ပြီး ထပ်မံငှား ရမ်း လိုပါက နောက်ထပ်(၅) နှစ် (၃)ကြိမ်သက်တမ်း တိုး မြှင့် ဆောင်ရွက်ခွင့်ရှိပါသည်။

(ခ) ဤလုပ်ငန်း မှ နိုင်ငံတကာကြယ်လေး ပွင့်အဆင့်၊ အခန်း (၄၀) ခန်း ပါ(၃) ထပ်အမြင့်ရှိဟိုတယ် (၁) လုံး နှင့် အခန်း (၅၄) ခန်း ပါ(၁) ထပ်ဟိုတယ် (၇) လုံး တို့ကို တည် ဆောက်မည်ဖြစ်ပြီး ၊ ကနဦးအခန်း (၄၀) ခန်းပါ ဟိုတယ်ဖြင့်စတင် ဆောင်ရွက်ရန်ဖြစ်ပြီး ဒုတိယအဆင့် တွင်အခန်း ပေါင်း (၁၀၂) ခန်း အထိတိုး ချဲ့ ဆောင် ရွက်မည်ဖြစ်ပါသည်။

(ဂ) မြေအသုံးချမှုပရိမီယံကြေး အဖြစ်နှစ် (၃၀) အတွက် (၁) ဧက လျှင်ကျပ် (၃.၇၅သန်း) နှုန်းဖြင့်စုစုပေါင်း ကျပ်(၃၀.၇၅) သန်းကိုပထမအရစ်အဖြစ်ကျပ် (၁၀.၂၅) သန်းကို စာချုပ်လက် မှတ်ရေးထိုးသည့်နေ့မှစ၍ (၁) လအတွင်းလည်းကောင်း၊ ဒုတိယအရစ်အဖြစ်ကျပ် (၁၀.၂၅) သန်းကိုစာချုပ်လက်မှတ်ရေး ထိုးသည့်နေ့မှစ၍ (၆) လအတွင်းလည်းကောင်း၊ တတိယအရစ် အဖြစ်ကျပ် (၁၀.၂၅) သန်းကိုစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍တစ်နှစ်အတွင်းလည်းကောင်း ပေးချေရမည်ဖြစ်ပါ သည်။

(ဃ) နှစ်စဉ်မြေငှားရမ်းခအဖြစ်ဟိုတယ်လုပ်ငန်းမှရရှိသော စုစုပေါင်းဝင်ငွေ (ကျပ် + နိုင်ငံခြား) ၏ (၅) ရာခိုင် နှုန်းကိုနှစ်ကုန်ဆုံးပြီး (၃) လအတွင်းပေးချေရမည်ဖြစ် ပါသည်။ ထိုသို့မြေငှားရမ်းခပေးချေရာတွင်နိုင်ငံခြား ငွေဖြင့်ရရှိသောဝင်ငွေ၏ (၅) ရာခိုင်နှုန်းကိုနိုင်ငံခြား ငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်ရရှိသောဝင်ငွေ၏ (၅) ရာခိုင်နှုန်းကိုကျပ်ငွေဖြင့်လည်းကောင်း ပေးချေ ရမည်ဖြစ်ပါသည်။

(င) နှစ်စဉ်မြေငှားရမ်းခပေးချေရာတွင်အခန်းပေါင်း (၄၈) ခန်းအတွက်နိုင်ငံခြားငွေဖြင့်ရရှိသောဝင်ငွေ၏ (၅) ရာခိုင်နှုန်း (သို့) အမေရိကန်ဒေါ်လာ (၁၅၀၀၀)၊ ထိုငွေနှစ်ရပ်အနက်များရာကိုလည်းကောင်း၊ အခန်း ပေါင်း (၁၀၂) ခန်းအတွက်နိုင်ငံခြားငွေဖြင့်ရရှိသော ဝင်ငွေ၏ (၅) ရာခိုင်နှုန်း (သို့) အမေရိကန်ဒေါ်လာ (၃၀၀၀၀)၊ ထိုငွေနှစ်ရပ်အနက်များရာကိုလည်းကောင်း နိုင်ငံခြားငွေဖြင့်ပေးချေရမည်ဖြစ်ပါသည်။

(ဝ) သဘောတူစာချုပ်ပါငှားရမ်းခြင်း ကာလကုန်ဆုံးပြီးနောက် (၃)လအတွင်း မြေနှင့်တကွအဆောက်အဦအပါအဝင်အဆောက်အဦးနှင့်ဆက်စပ်ပတ်သက်နေသောပစ္စည်းများကောင်းမွန်သောအနေအထားအတိုင်း မြန်မာ့ဂိုက်ပျိုးရေး လုပ်ငန်းသို့ အဖိုးစားနားမဲ့ပြန်လည်လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းတွင်(၃)ထပ်အမြင့်ရှိပြီး အခန်း (၄၈) ခန်း ပါဟိုတယ်(၁) လုံးနှင့်အခန်း (၅၄) ခန်း ပါ(၁)ထပ်ဟိုတယ် (၇) လုံး ပါရှိမည်ဖြစ်ပြီး ဟိုတယ်၏ ဝင်ငွေကိုခန့်မှန်းတွက်ချက်ရာတွင်တည်းခိုသည့်နှုန်းကိုပိုမှန်နှစ်တွင်နိုင်ငံခြားငွေဖြင့်(၂၀) ရာခိုင်နှုန်းဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်(၇၅) ရာခိုင်နှုန်းဖြင့်လည်းကောင်း၊ အသီးသီးတွက်ချက်ထားပါသည်။ အခန်းခနှုန်းများမှာပိုမှန်နှစ်တွင်တစ်ခန်းလျှင်နိုင်ငံခြားငွေဖြင့်အမေရိကန်ဒေါ်လာ (၈၅) ဒေါ်လာနှုန်းဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်တစ်ခန်းလျှင်ကျပ် (၂၃၀၀) နှုန်းဖြင့်လည်းကောင်း၊ ငှားရမ်းမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်ကုမ္ပဏီမှပိုမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၂၅.၃၄ | ၂၃.၁၅ | ၄၈.၈၉ |
| (ခ) အသုံးစရိတ် | ၂၅.၀၉ | ၁၀.၇၉ | ၃၅.၈၈ |
| (ဂ) အသားတင်အမြတ် | ၀.၂၅ | ၁၂.၇၆ | ၁၃.၀၁ |

၇။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှပိုမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | (အမေရိကန်ဒေါ်လာသန်း) | ၀.၃၈ |
| | (ကျပ်သန်း) | ၀.၁၀ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | (အမေရိကန်ဒေါ်လာသန်း) | ၀.၃၉ |
| | (ကျပ်သန်း) | ၂.၅၃ |
| (ဂ) မြေငှားရမ်းခရငွေ | (အမေရိကန်ဒေါ်လာသန်း) | ၀.၂၀ |
| | (ကျပ်သန်း) | ၁.၂၇ |

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍ကြည့်သော် ဆောက်ရေးကာလအတွင်း Saloon (၁) စီး၊ Pick-up (၁) စီး၊ Mini Bus (၁) စီး တို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွင်း Saloon (၁) စီး၊ Pick-up (၁) စီး၊ Mini Bus (၁) စီး ကို (၅၀) ရာခိုင်နှုန်း အခွန်အကောက်သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန်နှင့်တင်ပြလာသော သောက်ပစ္စည်းများအနက် Fridge (၁၃၅) ယူနစ်၊ Air Conditioner (၁၃၅) ယူနစ်၊ Telephone (၁၃၅) ယူနစ်တို့ကိုခွင့်ပြုရန်နှင့် T.V Games နှင့် Slot Machine များကိုခွင့်မပြုကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၉၇) ကြိမ်မြောက် အစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်ပြည်တွင်းမှ ဝန်ထမ်း (၁၀၀) ဦးနှင့် ပြည်ပမှ (၄) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် ငွေရေးကြေးရေးကိုင်ရာ အထောက်အထား အဖြစ်ကမကထပြုသူဦးဝိလ္လန်း ဆောင်အတွက်မြန်မာယူနီဗာဆယ်ဘဏ် လီမိတက်မှ ထောက်ခံချက်ကိုတင်ပြထားပါသည်။

၁၁။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့်ကိုယ်တွင်တပ်ဆင်ထားရှိမည့် Games များသည် လောင်းကစားဥပဒေနှင့်ငြိစွန်းမှုမရှိစေရန်ထားရှိမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ ဝင်းပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုတောင်းခံထားရာယင်းအပေါ်သုံးသပ်တင်ပြချက်ကိုပူးတွဲတင်ပြထားပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်။

(က) အက်(ဒ်)၊ ဖွီရီဆော့(တ်) ကုမ္ပဏီလီမိတက်တည်ထောင်၍ B.O.T စနစ်ဖြင့်ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ-မတူ။

(ခ) သဘောတူပါကအထက်အပိုဒ် (၁၂) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုပါ ခွင့်ပြုရန်သဘော တူ-မတူ။

အတွင်းရေးမှူး (ကိုယ်စား)
[ဒေါက်တာသန်းရှင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* အေး * ၁၃-၁၀-၉၇

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ဝန်ဆောင်မှုလုပ်ငန်းကြောင့် ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သက်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ ဝန်ဆောင်မှု လုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျုံးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှနှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထား လာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးပစ္စည်းများ အပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။



ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ပုဂံ(၉၇)(၅၉၃၀/၉၇)

ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

အကြောင်းအရာ။ **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းနှင့် S.V Resort Co.Ltd တို့အကြား မြေငှါးရမ်းသဘောတူစာချုပ်ချုပ်ဆိုခြင်း။**

ရည်ညွှန်းချက်။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၂-၉-၉၇ ရက်နေ့စွဲပါစာအမှတ်၊ ၁၁/ပုဂံ(၉၇)(၅၁၅၀/၉၇)။

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ညောင်ဦးမြို့နယ်မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းသုတေသနဝင်းအတွင်းရှိ မြေ(၈.၂၀)ဧကအား မြန်မာနိုင်ငံသားပိုင် S.V Resort Co.Ltd မှအနှစ်(၃၀)အတွက် ငွေကျပ်သိန်း(၃၀၀)ဖြင့်ငှါးရမ်း၍ ပုဂံဂေါက်ကွင်းဟိုတယ်ကိုတည်ဆောက်မည်ဖြစ်သဖြင့် မြေငှါးရမ်းသဘောတူစာချုပ်ကိုရည်ညွှန်းပါစာဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပါကိစ္စအား (၈-၁၀-၉၇) နေ့တွင်ကျင်းပသောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၇/၉၇)ကြိမ်မြောက်အကြိုညှိနှိုင်းဆွေးနွေးပွဲတွင်တင်ပြခဲ့ပြီးဖြစ်ပါသဖြင့် နောက်ဆုံးအဆင့်ညှိနှိုင်းဆွေးနွေးပွဲတွင်တင်ပြနိုင်ရေးအတွက် မြေငှါးသဘောတူစာချုပ်(၃၃)စုံအားပူးတွဲ၍တင်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)

(ဒေါက်တာမြမောင်၊ ညွှန်ကြားရေးမှူးချုပ်)

အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# အက်စ်၊ ဗွီ၊ ရီဆော့(တ်)ကုမ္ပဏီလီမိတက်

**********

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

## S. V. RESORT COMPANY LIMITED



**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

☎ - ၆၆၅၃၄၃
- ၆၆၄၄၃၃

စာအမှတ် ၁၁/ပုဂ် (၉၇) (၅၉၇၀/၉၇)
ရက်စွဲ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ(၂၅)ရက်

အကြောင်းအရာ ။ ။ **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းနှင့် S.V Resort Co., Ltd တို့အကြား မြေငှားရမ်းသဘောတူစာချုပ် ချုပ်ဆိုခြင်း။**

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ညောင်ဦးမြို့နယ် မြန်မာ့စိုက်ပျိုးရေးသုတေသနဝင်းအတွင်းရှိမြေ(ဧ. ၂၀)ကေအား မြန်မာနိုင်ငံသားပိုင် S.V ResortCo.Ltd. မှ အနှစ်(၃၀) အတွက် ငွေကျပ်သိန်း (၃၀၀) ဖြင့်ငှားရမ်း၍ပုဂံဂေါက်ကွင်းဟိုတယ်ကို တည်ဆောက်မည်ဖြစ်သဖြင့် မြေငှားရမ်းသဘောတူစာချုပ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရာ၊ (၁၇-၁၀-၉၇)နေ့တွင် ကျင်းပသောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၉၇)ကြိမ်မြောက် ညှိနှိုင်းဆွေးနွေးပွဲမှ ခွင့်ပြုပြီးဖြစ်ပါသဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ဆက်လက်တင်ပြနိုင်ရေးအတွက် မြေငှားသဘောတူစာချုပ် (၂၅)စုံအား ပူးတွဲ၍တင်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )
( ဒေါက်တာ မြမောင်၊ ညွှန်ကြားရေးမှူးချုပ်)

<u>အတွင်းရေးမှူး</u>
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို - ရုံးအဖွဲ့မှူး၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး။
- ရုံးလက်ခံ။
- မျှောစာတွဲ။

MIC
(၁၄/၉၇) ၁၇.၁၀.၉၇.



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ပုဂ(၉၇)(၁၉၃၀/၉၇)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

အကြောင်းအရာ။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းနှင့် S.V Resort Co.Ltd တို့အကြား မြေငှားရမ်းသဘောတူစာချုပ်ချုပ်ဆိုခြင်း ။

ရည်ညွှန်းချက်။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၂-၉-၉၇ ရက်နေ့စွဲပါစာအမှတ်၊ ၁၁/ပုဂ(၉၇)(၁၁၁၀/၉၇)။

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ညောင်ဦးမြို့နယ်မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းသုတေသနဝင်းအတွင်းရှိ မြေ(၈.၂၀)ဧကအား မြန်မာနိုင်ငံသားပိုင် S.V Resort Co.Ltd မှ အနှစ်(၃၀)အတွက် ငွေကျပ်သိန်း (၃၀၀) ဖြင့်ငှားရမ်း၍ ပုဂံဟိုတယ်ဇုန်တွင် ဟိုတယ်ကိုတည်ဆောက်မည်ဖြစ်သဖြင့် မြေငှားရမ်းသဘောတူစာချုပ်ကိုရေးဆွဲ၍ ပါးသဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပါကိစ္စအား (၈-၁၀-၉၇) နေ့တွင်ကျင်းပသောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၉၇)ကြိမ်မြောက်အကြိုညှိနှိုင်းဆွေးနွေးပွဲတွင်တင်ပြခဲ့ပြီးဖြစ်ပါသဖြင့် နောက်ဆုံးအဆင့်ညှိနှိုင်းဆွေးနွေးပွဲတွင်တင်ပြနိုင်ရေးအတွက် မြေငှားသဘောတူစာချုပ်(၃၃)စုံအား ပူးတွဲ၍တင်ပြအပ်ပါသည်။

(signature) ၁၄/၁၀/၉၇

ဒုတိယဝန်ကြီး (ကိုယ်စား)
(ဗိုလ်မှူးကြီးမြမောင်၊ ညွှန်ကြားရေးမှူးချုပ်)

အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်



**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

☎ ၆၆၅၇၃၃-
- ၆၆၄၄၃၃

စာအမှတ် ၁၁/ပုဂ်(၉၇) ( ၅၁၅၀ /၉၇)
ရက်စွဲ ၁၉၉၇ ခုနှစ်၊ ဇူလိုင်လ( ၂ )ရက်

အကြောင်းအရာ။ ။ **ပုဂံဝေါက်ကွင်းဟိုတယ် တည်ဆောက်မည့်မြေအား ငှားရမ်းမည့်ကိစ္စ။**

ရည်ညွှန်းချက် ။ ။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏(၁၈-၇-၉၇)နေ့စွဲပါ စာအမှတ်၊ ၁၁/ပုဂံ(၉၇) (၄၃၄၆/၉၇)။

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ညောင်ဦးမြို့နယ်၊ ... နယ်မြေ(ဈ)ကွက်အား မြန်မာနိုင်ငံသား၏ S.V Resort Co., Ltd. ; မှနှစ်(၃၀)အတွက် ငွေကျပ်သိန်း(၃၀၀)ဖြင့် ငှားရမ်း၍ ပုဂံဝေါက်ကွင်းဟိုတယ်ကို တည်ဆောက်မည်ဖြစ်သဖြင့် မြေငှားရမ်းခနှုန်းထားအား ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အထက်ပါ ပုဂံဝေါက်ကွင်းဟိုတယ်တည်ဆောက်မည့်မြေအား ငှားရမ်းမည့်ကိစ္စကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အကြိုညှိနှိုင်းဆွေးနွေးပွဲသို့ တင်ပြနိုင်ရေးအတွက် ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်စာအုပ်(၁၂)စုံအား ပူးတွဲ၍တင်ပြအပ်ပါသည်။

၂၅၊ ၈

ဒုတိယဝန်ကြီး ( ကိုယ်စား )
( ဒေါက်တာ မြမောင်၊ ညွှန်ကြားရေးမှူးချုပ်)

အတွင်းရေးမှူး
<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူကို ရုံးအဖွဲ့မှူး၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး။
[illegible]
[illegible]

တံဆိပ်ခေါင်း အက်ဥပဒေအရ တစ်နှစ်လုံး ပျမ်းမျှငှားရမ်းခ ငွေ၏ ၅% နှင့်ညီမျှသော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်း ခံရသူကထမ်း ဆောင်ရမည်ဖြစ်ပါသည်၊

(ဃ) အခြားလိုအပ်သည့်နေရာများတွင် မင်နီဖြင့်အနည်းငယ် ပြင်ဆင်ရေးသားပေးလိုက်ပါသည်။

၃။ အငှားချထားမည့်မြေမှာ အစိုးရဌာနပိုင်မြေဖြစ်ပါ၍ အစိုးရအဖွဲ့၏ ညွှန်ကြားချက်အရ စာချုပ်ကိုလက်မှတ်ရေးထိုးခြင်း မပြုမီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရယူရန်လိုအပ်မည်ဖြစ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)တွင်ပါရှိသော စီမံရေးရာ၊ ဘဏ္ဍာရေးရာနှင့် ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများနှင့်ညှိနှိုင်း ဆောင်ရွက်ရန်အကြံပြုပါသည်။

၅။ S.V Resort Co., Ltd. သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ အရ တရားဝင်မှတ်ပုံတင်ဖွဲ့စည်းတည်ထောင်ထားသောကုမ္ပဏီဟုတ် မဟုတ်၊ ချုပ်ဆို မည့်စာချုပ်ပါလုပ်ငန်းများကိုလုပ်ကိုင်ခွင့်ရှိ မရှိနှင့် ၎င်းလုပ်ငန်းကို လုပ်ကိုင် ရန် ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့် ပုဂ္ဂိုလ် သည် တရားဝင်လွှဲအပ်ခြင်း ခံရသူဟုတ် မဟုတ်စသည်တို့ကိုသက်ဆိုင်ရာစာရွက်စာတမ်း များ တောင်းယူစိစစ်သင့်ပါသည်။

၆။ ဤစာချုပ်ကိုလက်မှတ်ရေးထိုး ချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထား ရှိ နိုင်ရန် မိတ္တူ(၁)စောင်ကို ဤရုံးသို့ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(စန်းမောင်၊ ညွှန်ကြားရေးမှူး)

ဝန်ကြီးရုံး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

*ငေါး*

# လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

နှင့်

**S.V. RESORT CO.,LTD**

တို့အကြား

ချုပ်ဆိုသော

# (B.O.T)စနစ်ဖြင့်မြေငှားရမ်းခြင်းသဘောတူစာချုပ်

# လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန
# မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း
# နှင့်
# S.V. RESORT CO.,LTD

# တို့အကြားချုပ်ဆိုသော
# (B.O.T)စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်



ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ၁၉၉၇ ခုနှစ်၊ လ၊ ( )ရက်နေ့တွင် ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ သီရိမင်္ဂလာလမ်းသွယ် ရှိ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း (နောင်တွင် **"အငှားချထားသူ"** ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကို ကိုယ်စားပြုသော ဦးဆောင်ညွှန်ကြားရေးမှူး ဦးစိန်ဝင်း က တစ်ဖက်

နှင့်

ရန်ကုန်တိုင်း၊ စမ်းချောင်းမြို့နယ်၊ ရှမ်းလမ်း၊ အမှတ် ၅၃၊ အခန်း(ဘီ) တွင်တည်ရှိသော မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့် **S.V. HOLDING CO.,LTD** ကိုကိုယ်စားပြု၍ ဖွဲ့စည်းထားသော **S.V. RESORT CO.,LTD** ( နောင် တွင် **"အငှားချထားခြင်းခံရသူ"** ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ယင်းကုမ္ပဏီ၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကို ကိုယ်စားပြုသော ဒါရိုက်တာအဖွဲ့ ဥက္ကဋ္ဌ ဦး----------------- က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ ဤသဘောတူ စာချုပ်ကို ချုပ်ဆိုကြပါသည်။

## ၁။ နိဒါန်း

၁.၁။ အငှားချထားသူ ပိုင် မန္တလေးတိုင်း၊ ညောင်ဦးမြို့နယ်၊ မင်းနန်သူရပ်ကွက်၊ ဘုရားစုကွင်း၊ အကွက်အမှတ် ၁၅၁၆၊ ဦးပိုင်အမှတ် ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၃၈၊ ၃၉၊ ၄၀ မြန်မာ့စိုက်ပျိုးရေးသုတေသန ဝင်းအတွင်းရှိ နောက်ဆက်တွဲ(က) ပါ မြေပုံအရ မြေဧရိယာ (၈.၂၀) ဧက ရှိသောမြေကွက် ကို အငှားချထားခြင်းခံရသူထံသို့ အနှစ်(၃၀) ငှားရမ်းရန် သဘောတူသဖြင့်လည်းကောင်း၊

၁.၂။ အငှားချထားခြင်းခံရသူ က အဆိုပါမြေကွက်တွင် ဟိုတယ် နှင့်ဟိုတယ်လုပ်ငန်းနှင့်ဆက်စပ်သည့်လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရန်နှင့် မြေငှားရမ်းခြင်းကာလကုန်ဆုံးသည့်နေ့တွင် မြေကွက် နှင့်မြေကွက်ပေါ်ရှိ ဟိုတယ်လုပ်ငန်းကိုပါ အငှားချထားသူထံသို့ အဖိုးစားနားမပါရှိဘဲ ပြန်လည် လွှဲပြောင်းပေးရန် သဘောတူသဖြင့်လည်းကောင်း အောက်ပါအတိုင်းနှစ်ဖက်သဘောတူ ဤ(B.O.T)စနစ်ဖြင့်မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

## ၂။ အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း

အငှားချထားသူ သည် ငှားရမ်းမည့်မြေအား ပိုင်ဆိုင်သူဖြစ်ပြီး ဤစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူနှင့် လုပ်ပိုင်ခွင့်ရှိသူဖြစ်ကြောင်းကိုလည်းကောင်း၊ အငှားချထားခြင်းခံရသူ သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို အကောင်အထည်ဖော်ရန် ဘဏ္ဍာငွေကြေးအင်အားတောင့်တင်းခိုင်မာသူဖြစ်ကြောင်း နှင့် ဤစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူနှင့်နှင့် လုပ်ပိုင်ခွင့်ရှိသူဖြစ်ကြောင်းကိုလည်းကောင်း အသီးသီးတင်ပြတာဝန်ယူကြပါသည်။

**၃။ မြေအသုံးချမှုပရီမီယံ ( Land Use Premium ) နှင့် ပေးချေရန်နည်းလမ်း**

အငှားချထားခြင်းခံရသူ သည် မြေအသုံးချမှုပရီမီယံ(Land Use Premium )အဖြစ် အနှစ်(၃၀)အတွက် တစ်ဧကလျှင် ကျပ် ၃၇၅၀၀၀၀/- (ကျပ်သုံးဆယ့်ခုနစ်သိန်းငါးသောင်းတိတိ ) နှုန်းဖြင့် မြေအကျယ်အဝန်းအရ (၈ .၂၀) ဧက အတွက် ကျပ် ၃၀ , ၇၅၀ , ၀၀၀/-(ကျပ်သုံးရာခုနစ်သိန်းငါးသောင်းတိတိ) ကို အငှားချထားသူ ထံသို့ အောက်ပါအတိုင်းပေးချေရန် သဘောတူပါသည်။

၃ .၁။ မြေအသုံးချမှုပရီမီယံ (Land Use Premium)၏ပထမအရစ်အဖြစ် ကျပ် ၁၀ , ၂၅၀ , ၀၀၀/-(ကျပ်တစ်ရာနှစ်သိန်းငါးသောင်းတိတိ)ကို ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်(၁)လအတွင်းပေးချေရမည်။

၃ .၂။ မြေအသုံးချမှုပရီမီယံ (Land Use Premium)၏ဒုတိယအရစ်အဖြစ် ကျပ် ၁၀ , ၂၅၀ , ၀၀၀/-(ကျပ်တစ်ရာနှစ်သိန်းငါးသောင်းတိတိ)ကိုဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ခြောက်(၆)လအတွင်း ပေးချေရမည်။

၃ .၂။ မြေအသုံးချမှုပရီမီယံ(Land Use Premium)၏တတိယအရစ်အဖြစ် ကျပ် ၁၀ , ၂၅၀ , ၀၀၀/-(ကျပ်တစ်ရာနှစ်သိန်းငါးသောင်းတိတိ)ကို ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်(၁)နှစ်အတွင်း ပေးချေရမည်။

**၄။ မြေငှားရမ်းခနှုန်းထားသတ်မှတ်ချက်**

အငှားချထားခြင်းခံရသူသည် နှစ်စဉ်မြေငှားရမ်းခအဖြစ် အငှားချထားသူ ထံသို့ အောက်ပါအတိုင်းပေးချေရန် သဘောတူပါသည်။

၄ .၁။ နှစ်စဉ်မြေငှားရမ်းခအဖြစ်ဟိုတယ်လုပ်ငန်းမှ ရရှိသောစုစုပေါင်းဝင်ငွေ(ကျပ်ငွေနှင့်နိုင်ငံခြားငွေအပါအဝင်) (Total Gross Income) ၏ ၅% ကို နှစ်တစ်နှစ်ကုန်ဆုံးပြီး သုံး(၃)လအတွင်း ပေးချေရန်ဖြစ်ပါသည်။ ထိုသို့နှစ်စဉ်မြေငှားရမ်းခ အဖြစ်ပေးချေရာတွင် နိုင်ငံခြားငွေဖြင့်ရရှိသောဝင်ငွေ၏၅% ကိုနိုင်ငံခြားငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်ရရှိသောဝင်ငွေ၏ ၅% ကို ကျပ်ငွေဖြင့်လည်းကောင်း ပေးချေရမည်။

၄ .၂။ ထိုသို့နှစ်စဉ်မြေငှားရမ်းခပေးချေရာတွင် အခန်းပေါင်း(၄၈)ခန်းအတွက် နိုင်ငံခြားငွေဖြင့်ရရှိသောဝင်ငွေ၏၅%(သို့မဟုတ်)US$ ၁၅ , ၀၀၀/-( အမေရိကန်ဒေါ်လာ တစ်သောင်းငါးထောင်တိတိ )၊ ထို့ငွေနှစ်ရပ်အနက် များရာကို နိုင်ငံခြားငွေဖြင့်ပေးချေရမည်။ အခန်းပေါင်း(၁၀၂)ခန်းအတွက် နိုင်ငံခြားငွေဖြင့်ရရှိသောဝင်ငွေ၏၅% (သို့မဟုတ်) US$ ၃၀ , ၀၀၀/- ( အမေရိကန်ဒေါ်လာသုံးသောင်းတိတိ)၊ ထို့ငွေနှစ်ရပ်အနက်များရာကို နိုင်ငံခြားငွေဖြင့်ပေးချေရမည်။ ကျပ်ငွေဖြင့်ရရှိသောဝင်ငွေအတွက် ကျပ်ဖြင့်ရရှိသောဝင်ငွေ၏ ၅% ကို ကျပ်ငွေဖြင့်လည်းကောင်း ပေးချေရမည်။

၄ .၃။ အထက်ပါအပိုဒ် ၄ .၁ တွင်ပါရှိသော စုစုပေါင်းဝင်ငွေ (Total Gross Income) ဆိုသည်မှာ -

(က) အခန်းများငှားရမ်း၍ ရရှိသည့်ဝင်ငွေများ၊

(ခ) ခန်းမကြီးနှင့် အခြားဟိုတယ်လုပ်ငန်းများမှရရှိသည့် ဝင်ငွေများ၊

(ဂ) စားသောက်ဆိုင်နှင့် အဖျော်ယမကာလုပ်ငန်းများမှ ရောင်းချရရှိသည့်ဝင်ငွေများ၊

(ဃ) ဝန်ဆောင်မှုလုပ်ငန်းအားလုံးမှရရှိသည့်ဝင်ငွေများ၊

(င) ဧည့်သည်များမှ ရရှိသော ပြန်ပေးရန်မလိုသည့်စဘော်ငွေများ၊

(စ) ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်းအတွက်ရရှိသည့် အခြားဝင်ငွေများ၊

အဆိုပါတွက်ချက်မှုတွင် အောက်ပါအချက်များပါဝင်ခြင်းမရှိပါ။

(က) ကုန်သွယ်လုပ်ငန်းခွန်၊

(ခ) ဧည့်သည်များသို့ပြန်အမ်းရမည့်ငွေများကို စုစုပေါင်းဝင်ငွေတွင် ထည့်သွင်းတွက်ချက်ပြီးပါက နုတ်ပယ်ရန်၊

(ဂ) စာရင်းကာလနှင့်မသက်ဆိုင်သည့် ကြိုတင်ရရှိထားသောဝင်ငွေများ၊

၅။ ငှားရမ်းသည့်ကာလနှင့် အကျိုးသက်ရောက်သည့်နေ့

၅.၁ ဤသဘောတူစာချုပ်အရ အငှားချထားသည့်ကာလမှာ ၁၉၉၇ ခုနှစ်၊ -------------- လ ----- ရက်နေ့ မှ ----- ခုနှစ်၊ --------------- လ၊ --- ရက်နေ့အထိ အနှစ်(၃၀)တိတိ သတ်မှတ်ပါသည်။ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် တရားဝင် အတည်ပြုလက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည် ဖြစ်ပါသည်။

၅.၂ ငှားရမ်းခြင်းသက်တမ်း အနှစ်(၃၀)ပြည့်ပြီးသောအခါ အငှားချထားသူ၏ သဘောတူညီချက်ဖြင့် နောက်ထပ် ၅ နှစ်၊ ၃ ကြိမ်သက်တမ်းတိုးမြှင့် ဆောင်ရွက်ခွင့်ရှိသည်။

၆။ အငှားချထားခြင်းခံရသူ၏ တာဝန် နှင့် ရပိုင်ခွင့်များ

အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်ရပိုင်ခွင့်များမှာ-

၆.၁ ငှားရမ်းခများကို သတ်မှတ်ထားသည့်အစီအစဉ်အတိုင်း ပေးချေရမည်။

၆.၂ ငှားရမ်းသည့်မြေကွက်အပေါ်တွင် နိုင်ငံတကာကြယ်လေးပွင့် အဆင့်မီ ဟိုတယ် ကိုဆောက်လုပ် ဆောင်ရွက်ရမည်။

၆.၃ လုပ်ငန်းဆောင်ရွက်မှုအတွက် သက်ဆိုင်ရာရုံးဌာနအသီးသီး သို့ ပေးဆောင်ရမည့် မြေခွန်မှအပ အခြားသက်ဆိုင်ရာ အခွန်အခများအားလုံးကို ပေးဆောင်ရမည်။

၆.၄ အငှားချထားသည့်ကာလအတွင်း အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက် ရယူခြင်းမပြုဘဲ ဟိုတယ် လုပ်ငန်းကို တစ်ဆင့်လွှဲပြောင်းပေးခြင်းမပြုလုပ်ရ။

၆.၅ ငှားရမ်းခြင်းကာကုန်ဆုံးသည့်နေ့တွင် အငှားချထားသည့်မြေကွက် နှင့် မြေကွက်ပေါ်ရှိ ဟိုတယ်နှင့်တကွ မရွှေ့မပြောင်းနိုင်သည့် ပစ္စည်းကိုပါ အဖိုးစားနားမပါရှိဘဲ အငှားချထားသူထံသို့ လွှဲပြောင်းပေးရမည်။

၆.၆ လုပ်ငန်းကို ကနဦး အခန်းပေါင်း (၄၈) ခန်းပါ ဟိုတယ်ဖြင့် စတင်ဆောင်ရွက်ရန်ဖြစ်ပြီး၊ ဒုတိယအဆင့်တွင် အခန်းပေါင်း(၁၀၂)ခန်းအထိ တိုးချဲ့ဆောင်ရွက်သွားနိုင်ပါသည်။

၆.၇ အငှားချထားသည့်မြေကွက်အပေါ်တွင် ဟိုတယ်လုပ်ငန်းနှင့် ဟိုတယ်လုပ်ငန်းကို တိုက်ရိုက်အကျိုးပြု နေသည့်လုပ်ငန်းများအပြင် အောက်ပါဟိုတယ်လုပ်ငန်း၏ ဆက်စပ်လုပ်ငန်းများကိုပါ လုပ်ကိုင်ဆောင် ရွက်နိုင်သည်။

၁။ RESTAURANT
၂။ BAR AND LOUNGE
၃။ COFFEE SHOP
၄။ LOBBY SHOPS
၅။ PERMITTED GAMES CENTRE UNDER THE EXISTING LAWS OF THE UNION OF MYANMAR
၆။ BUSINESS CENTRE
၇။ FUNCTION/CONFERENCE ROOM
၈။ BEAUTY PARLOUR

၆.၈ ဟိုတယ်လုပ်ငန်းအဆင့်မီစေရေးနှင့် တိုးတက်ဖွံ့ဖြိုးစေရေးအတွက် လုပ်ငန်းကို ပြည်တွင်း/ပြည်ပ မှ ပုဂ္ဂိုလ်၊ ကုမ္ပဏီများ နှင့် ဖက်စပ်၍ ဆောင်ရွက်နိုင်သည်။ ထို့ပြင် ဟိုတယ်လုပ်ငန်းကျွမ်းကျင်သည့် ပြည်တွင်း/ပြည်ပမှပုဂ္ဂိုလ်၊ ကုမ္ပဏီများငှားရမ်း၍ လုပ်ငန်းကို ဆောင်ရွက်စေနိုင်သည်။

၆.၉ မြန်မာ့အာမခံဥပဒေနှင့်အညီ ထားရှိရမည့် အာမခံများကို မြန်မာ့အာမခံလုပ်ငန်းတွင် ထားရှိရမည်။

### ၇။ အငှားချထားသူ၏ တာဝန်နှင့်ရပိုင်ခွင့်များ

အငှားချထားသူ၏ တာဝန် နှင့် ရပိုင်ခွင့်များမှာ-

၇.၁ ငှားရမ်းထားသည့် မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

၇.၂ ဟိုတယ်ဆောက်လုပ်ဆဲ နှင့် ဟိုတယ်လုပ်ငန်းဆောင်ရွက်နေစဉ်အငှားချထားသူသည် လုပ်ငန်းမြန်ဆန်စေရေးအတွက် လိုအပ်သော ပံ့ပိုးကူညီမှုများကို ဆောင်ရွက်ပေးရမည်။

၇.၃ လုပ်ငန်းတိုးချဲ့ဆောင်ရွက်မှု၊ ပြုပြင်မွမ်းမံမှုများအတွက် ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

၇.၄ အငှားချထားသည့် ကာလကုန်ဆုံး၍ အငှားချထားသည့်မြေကွက်၊ မြေကွက်ပေါ်ရှိ ဟိုတယ်လုပ်ငန်းကို ပုဂ္ဂလိကသို့ ဆက်လက်ငှားရမ်းရန် အကြောင်းပေါ်ပေါက်လျှင် ယခုအငှားချထားခြင်းခံရသူ ကို ဦးစားပေးငှားရမ်းရမည်။

၇.၅ အငှားချထားခြင်းကာလ ကုန်ဆုံးသည့်နေ့တွင် မြေကွက်၊ မြေကွက်ပေါ်ရှိ ဟိုတယ် နှင့် မရွှေ့မပြောင်းနိုင်သောပစ္စည်းများကို ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ လွှဲပြောင်းရယူရန်ဖြစ်ပါသည်။

### ၈။ မြေနှင့်အဆောက်အအုံလွှဲပြောင်းပေးခြင်း

ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါ ကုန်ဆုံးပြီးနောက် (၃)လအတွင်း အငှားချထားခြင်းခံရသူသည် မြေနှင့်တကွ အဆောက်အအုံအပါအဝင် အဆောက်အအုံနှင့်ဆက်စပ်ပတ်သက်နေသောပစ္စည်းများကို မွမ်းမံထားရှိပြီး ကောင်းမွန်စွာပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အငှားချထားသူသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးရမည်။

### ၉။ စာချုပ်ရုပ်သိမ်းခြင်း

၉.၁။ အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်များ အနက်တစ်ရပ်ရပ် ပေါ်ပေါက်သည့်အခါ နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ စာချုပ်ရုပ်သိမ်းခြင်း အကျိုးသက်ရောက်စေရမည်-

(က) စာချုပ်ပါစည်းကမ်းချက်များကို စာချုပ်ဝင်တစ်ဖက်ဖက်က ဖောက်ဖျက်သည့်အခါ၊

(ခ) အငှားချထားခြင်းခံရသူသည် လူမွဲအဖြစ်ခံယူသည့်အခါ၊

(ဂ) မတားဆီးနိုင်သောဖြစ်ရပ်တစ်ခုသည် တစ်နှစ်ထက်ကျော်လွန်၍ ဖြစ်ပွားနေသောအခါ၊

(ဃ) စာချုပ်သက်တမ်းကုန်ဆုံး သည့်အခါ၊

၉.၂။ အထက်ဖော်ပြပါ အကြောင်းများကြောင့် စာချုပ်ရုပ်သိမ်းသည့်အခါ စာချုပ်ရုပ်သိမ်းပြီးနောက် (၆)လအတွင်း မြေနှင့်တကွ အဆောက်အအုံအပါအဝင် မြေပေါ်ရှိအဆောက်အအုံ အားလုံးတို့ကို ကောင်းမွန်သော အနေအထားဖြင့် အငှားချထားခြင်းခံရသူ က အငှားချထားသူ သို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ်ရမည်။

### ၁၀။ မတားဆီးနိုင်သောဖြစ်ရပ်များ

ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်ဝတ္တရားများကို မတားဆီးနိုင်သော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် ထို့သို့မထမ်းဆောင် နိုင်သူဖက်က အခြားတစ်ဖက်သို့ (၇) ရက်အတွင်း ထိုမတားဆီးနိုင်သောဖြစ်ရပ်ကို အသေးစိတ်စာဖြင့် ရေးသားကာ အကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများ ထမ်းဆောင်ခြင်းကို မတားဆီးနိုင်သော ဖြစ်ရပ် ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထို့သို့ မမျှော်မှန်းနိုင်သည့် သဘာဝဘေးအန္တရာယ် ဖြစ်ရပ်ကြောင့် လုပ်ငန်းရပ်ဆိုင်းရသည့်ကာလကို အငှားချထားသူ က ငှားရမ်းသည့်ကာလမှ ထည့်သွင်းရေတွက်ခြင်း မပြုရန် သဘောတူပါသည်။

''မတားဆီးနိုင်သောဖြစ်ရပ်''ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ လျှပ်စီးလျှပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပြည်သူ့ရန်သူ၏လုပ်ဆောင်ချက်များ၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်းများ၊ အဓိကရုဏ်းဖြစ်ခြင်းများ၊ အရပ်ဖက်နှောင့်ယှက်ဖျက်ဆီးခြင်းများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်းများ၊ ရေကြီးခြင်းများ၊ မုန်တိုင်း တိုက်ခိုက်ခြင်းများနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး၊ ထိုက်သင့်သော ဂရုစိုက်မှု၊ ခွဲ၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရဘဲ ကျော်လွန်သွားရန် မတတ်စွမ်းနိုင်သောဖြစ်ရပ်များ ကိုဆိုလိုသည်။

### ၁၁။ အနညာတစီရင်ဆုံးဖြတ်ခြင်း

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီ ခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်း မဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ် ၌လည်းအတည် ဖြစ်စေရမည်။ အနညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာ နိုင်ငံအက်ဥပဒေအမှတ် ၄/၁၉၄၄ )နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင် ချက်များနှင့် အညီဖြစ်စေရမည်။ အနညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့ဖြစ်ရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

### ၁၂။ စာချုပ်ကိုပြင်ဆင်ဖြည့်စွက်ခြင်း

ဤသဘောတူစာချုပ်ကို စာဖြင့်နှစ်ဦးနှစ်ဖက် သဘောတူညီမှုမရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ လုံးဝ မပြုလုပ်ရ။ ဤသဘောတူစာချုပ်တွင် လုပ်ငန်းလိုအပ်ချက်အရပေါ်ပေါက်သောအချက်အလက် (သို့မဟုတ်)အခြေအနေ တစ်ရပ်ရပ်ပေါ်ပေါက်ပြီး စာချုပ်ကိုပြင်ဆင်ရန်လိုအပ်ပါက နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။ သို့သော်စာချုပ်၏ မူလရည်ရွယ်ချက်ကို မပျက်ပြယ်စေရ။ ဤကဲ့သို့စာချုပ်ပြင်ဆင်ဖြည့်စွက်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှသာ အကျိုးသက်ရောက်စေရမည်။

### ၁၃။ ပတ်ဝန်းကျင်ထိန်းသိမ်း ကာကွယ်ခြင်း

အငှားချထားခြင်းခံရသူသည် မိမိငှားရမ်းလုပ်ကိုင်သော မြေနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေးအတွက် ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန်အတွက် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

**၁၄။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

ဤမြေငှားရမ်းခြင်းသဘောတူ စာချုပ်ကိုဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်း တို့သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများထံမှ လိုအပ်သည့်သဘောတူညီချက်၊ ခွင့်ပြုချက်နှင့် လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှသာတွင် တည်ရှိပါသည်။

**၁၅။ ဓါတ်သတ္တုအရင်းအမြစ်များ**

ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့်မြေမှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများ တွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူက ပိုင်ဆိုင်ရမည့်အပြင် အငှားချထားသူသည် သက်ဆိုင်ရာ နိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရယူခွင့်ရှိစေရမည်။

**၁၆။ အကြောင်းကြားခြင်း**

ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက တစ်ဘက်မှ အခြားတစ်ဘက်သို့ အကြောင်းကြားရမည်။ ထိုသို့အကြောင်းကြားသည့်အချိန်မှ ရက်ပေါင်း(၃၀)အတွင်း အကြောင်းကြားစာပါ အကြောင်းအရာနှင့်ပတ်သက်၍ ဆောင်ရွက်ပေးရန် သို့မဟုတ် ရှင်းလင်းပြန်ကြားပေးရန် သဘောတူညီကြပါသည်။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြားစာဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေးပို့ခြင်းများကို အောက်ပါအတိုင်းဆက်သွယ်ဆောင်ရွက်ရမည်။

**အငှားချထားသူအတွက်**

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း၊
ရန်ကုန်မြို့။
ဖုံး ----------------

**အငှားချထားခြင်းခံရသူအတွက်**

မန်နေးဂျင်းဒါရိုက်တာ
S.V. RESORT CO.,LTD
အမှတ် ၅၃၊ အခန်း(ဘီ)၊ ရှမ်းလမ်း၊
စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။
ဖုံး ------------------

**၁၇။ လွှမ်းမိုးသောဥပဒေ**

အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံရှိ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းကမ်းချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

**၁၈။ စာချုပ်အစိတ်အပိုင်းများ**

ဤမြေငှားရမ်းခြင်းသဘောတူစာချုပ် နှင့်အတူ ပူးတွဲထားသောနောက်ဆက်တွဲများသည် ဤစာချုပ်၏ အရေးကြီးသောအစိတ်အပိုင်းများ ဖြစ်စေရမည်။

ဖော်ပြပါအချက်အလက်များကို သိရှိသဘောပေါက်နားလည် သဘောတူညီကြပြီးဖြစ်သည့်အလျောက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် တို့သည် ဤသဘောတူစာချုပ်အထက်တွင် ဖော်ပြထားသော နှစ်၊ လ၊ ရက်၌ မိမိတို့၏ လက်မှတ်နှင့် တံဆိပ်များကို အောက်တွင် ရေးထိုးရိုက်နှိပ်ကြပါသည်။

**အငှားချထားသူကိုယ်စား**

လက်မှတ် -------------------

အမည် -------------------

မှတ်ပုံတင်အမှတ် ---------------

ရာထူးအဆင့် -----------------

**အငှားချထားခြင်းခံသူကိုယ်စား**

လက်မှတ် ----------------

အမည် -----------------

မှတ်ပုံတင်အမှတ် -------------

ရာထူးအဆင့် ---------------

<u>အသိသက်သေများ</u>

၁။ ----------------------

အမည် --------------------

ရာထူး --------------------

လိပ်စာ -------------------

၂။ ----------------------

အမည် --------------------

ရာထူး --------------------

လိပ်စာ -------------------

မြေစာရင်းပုံစံ (၁၀၅)

# ဖြေရှင်းဆက်တွဲ (က)

မှန်ကြောင်း သက်သေမခံ / သက်သေခံ သော လက်ရှိမြေပုံတွင် ယခုနှစ် အသုံးပြုသော ဦးပိုင်မြေပုံလက်ခွဲရေးရန် ပုံစံ

ရုံးခွန် တံဆိပ်ခေါင်းကပ်ရန်

ခရိုင်
[illegible]

မြို့နယ်
[illegible]

ရပ်ကွက် / ကျေးရွာအုပ်စု
[illegible]

ကွင်း / အကွက် အမှတ်နှင့်အမည်
[illegible]

ဦးပိုင်အမှတ် ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၃၈၊ ၃၉၊ ၄၀

| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ ပိုင်ရှင်အမည် / ဂရန်ရှင် အငှားဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| ၂၁ | | | ယာ - ၄ | ၀.၄၃ | |
| ၂၂ | | | " | ၁.၇၉ | |
| ၂၃ | | | " | ၂.၆၀ | |
| ၂၄ | | | " | .၁၀ | |
| ၃၈ | | | " | ၁.၄၀ | |
| ၃၉ | | | " | ၁.၆၀ | |
| ၄၀/၁ | | | " | .၂၈ | |
| | | | | ၈.၂၀ | |

ရေးကူးပေးသည့် အကြောင်းအရာ

(ပေါ်ပြပါ အကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည်

လျှောက်လွှာတင်သည့်နေ့စွဲ

လျှောက်သူတို့ လက်ခံပေးအပ်သည့် နေ့စွဲ

ရုံးတံဆိပ်

ယခု အထက်တွင်ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးသော ၁၉၊၇ ခု အတွက် ဖြေရှင်းဆက်တွဲ တိုင်းတာခြင်းမြေပုံဖြစ်ကြောင်း သက်သေခံ လက်မှတ်ရေးထိုးပါသည်။

အမှုတွဲထိမ်း / မြေတိုင်းစာရေးလက်မှတ်

နေ့စွဲ

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ်

နေ့စွဲ

မြို့နယ်မြေစာရင်းဦးစီးဌာန [illegible]

လက်ထောက်ဦးစီးမှူး (မြေစာရင်း)

မြို့နယ်မြေစာရင်းဦးစီးဌာန [illegible]

# DEFERRED PAYMENT LOAN AGREEMENT ( Draft )

## TO PURCHASE OF MACHINERIES AND MATERIALS

## FOR CONSTRUCTION OF HOTEL

**BETWEEN**

**S. V. RESORT COMPANY LIMITED**

**AND**

**BONAZA ASIA LIMITED**

This Loan Agreement is made on the th day of ------------ , 1997.

**between**

**S. V. RESORT COMPANY LIMITED**, a Myanmar Company with its principal office of business at No. 57(B), Room (3-2), Shan Street, Sanchaung Township, Yangon, Union of Myanmar, a Limited Company under the Myanmar Companies Act (hereinafter referred to as " Party A " which expression shall, unless repugnant to the context or the meaning thereof, be deemed to include its successors, legal representatives and permitted assigns) represented for the purpose of this Agreement by its Director, U San Tun Aung of the one part,

**and**

**BONAZA ASIA LIMITED**, a Company of Hong Kong and its principal office of business at Lucky Plaza 23/F, Flat F, 315 Lockhart Road, Wan Chai, Hong Kong, a company existing under the laws of Hong Kong ( hereinafter referred to as " Party B " which expression shall, unless repugnant to the context or the meaning thereof, be deemed to include its successors legal representatives and permitted assigns ) represented for the purpose of this Agreement by its Managing Director, Mrs. Vivsan Sein Tun a citizen of Hong Kong of the other part.

1. WHEREAS The parties hereto are desirous of to lend and borrow for purchasing of machineries & equipments and materials which required for construction of "HOTEL" to construct and operate in Pagan Nyaung Oo Township, Mandalay Division, Union of Myanmar by the Party A's Capital and their management under the Myanmar Citizen Investment Law 1994.

2. WHEREAS The parties here to agree to do the Loan Agreement for the purpose of the Party B to supply the loan in Deferred Payment Purchase System to the Party A on the amount of US Dollar 5,000,000/- ( US Dollar five million only ) of machineries & equipment and materials which required for the construction of "HOTEL" according to the discussion and agreement within the two parties were as follows:-

3. PAYMENT OF LOAN

3.1 The Lender must pay cash loan and Deferred Payment to the Borrower for the above loan on the amount of US Dollar 5,000,000/- ( US Dollar five million only ) when the Borrower get the necessary permit from the Myanmar Investment Commission to doing the business of construction of "HOTEL" under the Myanmar Citizen Investment Law, 1994.

3.2 The list of machineries & equipment and materials required for construction of "HOTEL" is attached as a Exhibit No. I and detail invoice and other necessary documents for shipping, will be prepared when the Borrower get the Permit from the Myanmar Investment Commission.

4. REPAYMENT OF LOAN

4.1 The Borrower must repay for the above loan after receiving the necessary machineries & equipment and materials, on the amount of US Dollar 5,000,000/- ( US Dollar five million only ) to the Lender within four (4) years and we also need to pay interest on loan in the rate of 8% per annum by reducing balance menthod. Therefore, the repayment for principal amount of loan will be as follows:-

| | | |
|---|---|---|
| 1998-1999 financial year | US$ | 1,250,000 |
| 1999-2000 financial year | US$ | 1,250,000 |
| 2000-2001 financial year | US$ | 1,250,000 |
| 2001-2002 financial year | US$ | 1,250,000 |
| TOTAL | US$ | 5,000,000 |

5. INTEREST ON LOAN

5.1 The Borrower also need to pay interest on loan in the rate of 8% per annum by reducing balance menthod. Therefore, the payment for interest on loan will be as follows:-

| | | |
|---|---|---|
| 1998-1999 financial year | US$ | 400,000 |
| 1999-2000 financial year | US$ | 300,000 |
| 2000-2001 financial year | US$ | 200,000 |
| 2001-2002 financial year | US$ | 100,000 |
| TOTAL | US$ | 1,000,000 |

6. EFFECTIVENESS

6.1 This Agreement comes to effect from the date of signing by both parties and duly authenticated by witnesses, after obtaining the approval from the Myanmar Investment Commission for the proposed project of the Borrower.

7. ARBITRATION

7.1 If any dispute arises over the interpretation or implementation of this Agreement, such dispute shall be settled amicably between both contracting parties through mutual discussion. Disputes arising between both contracting parties that cannot be settled amicably as mentioned above shall be settled in the Union of Myanmar by arbitration, through two arbitrators appointed by and each representing one of the three contracting parties. Should the arbitrators failed to reach an agreement, the dispute shall be referred to an Umpire nominated by the arbitrators. The arbitration proceeding shall in all respect conform to the Arbitration Act, ( Myanmar Act No. IV of 1944) or any subsisting statutory modifications thereof. The venue of arbitration shall be Yangon, Union of Myanmar, or any place in the Union of Myanmar agreed by the both parties. The Arbitration Fees shall be borne by the party against whom the award in made.

8. GOVERNING LAW

8.1 This Agreement shall be read, construed, interpreted and governed by the laws of the Union of Myanmar.

9. LAW OF PERFORMANCE

9.1 Both parties shall carry out their obligations arising out of this Agreement in accordance with the Laws, Rules, Regulations, Procedures and Directives of the Union of Myanmar.

10. RENEGOTIATION OF THE AGREEMENT

10.1 In the event that any situation or condition arises due to circumstances not envisaged in this Contract and warrants to the Agreement, the parties shall make the necessary negotiation.

This LOAN AGREEMENT is executed by the authorized representatives of the parties in Yangon, Myanmar on the th --------------, 1997.

| | |
|---|---|
| For and on behalf of<br>**LENDER** | For and on behalf of<br>**BORROWER** |
| (1) ______________<br>Mrs. Vivsan Sein Tun<br>Managing Director,<br>Bonaza Asia Limited,<br>Hong Kong. | (2) ______________<br>U San Tun Aung<br>Director<br>S. V. Resort Company Limited<br>Yangon, Union of Myanmar. |
| In the Presence of | In the Presence of |
| (1) ______________<br>-------------------------<br>-------------------------<br>Bonaza Asia Limited,<br>Hong Kong. | (2) ______________<br>-----------------<br>-------------------------,<br>S. V. Resort Company Limited<br>Yangon, Union of Myanmar. |

MACHINERIES, EQUIPMENTS AND MATERIALS FOR CONSTRUCTION

**Sheet No. ( 1 )** **Exhibit No. I**

| Sr. No. | PARTICULARS | UNIT | AMOUNT IN US$ |
|---|---|---|---|
| 1 | Telephone System/PABX | 2 | 30,000 |
| 2 | General Office Equipments | 1 lot | 25,000 |
| 3 | Personal Computer/Monitor | 8 | 8,000 |
| 4 | Printer | 5 | 5,000 |
| 5 | Photocopier | 2 | 8,000 |
| 6 | Fascimile Machine | 2 | 2,000 |
| 7 | Cash Register | 5 | 6,000 |
| 8 | Fire Alarm System | 1 set | 10,000 |
| 9 | Power Generator | 2 | 70,000 |
| 10 | Power Transformer | 1 | 10,000 |
| 11 | High T. Cable | 1 lot | 8,000 |
| 12 | High T. Switch Gear | 1 set | 3,000 |
| 13 | Compressor and Pump | 15 | 6,000 |
| 14 | Power Distribution Cable | 1 lot | 45,000 |
| 15 | Writing Accessories | 1 lot | 35,000 |
| 16 | Decorative Light Fittings | 1 lot | 150,000 |
| 17 | Heating, Vent & AC Equip. | 1 lot | 100,000 |
| 18 | Vent Fans | 1 lot | 10,000 |
| 19 | Air Conditioner | 150 | 120,000 |
| 20 | Fridge | 150 | 50,000 |
| 21 | Cable TV | 4 set | 10,000 |
| 22 | TV/Radio System | 150 set | 50,000 |
| 23 | Telephone Set | 150 | 15,000 |
| 24 | Water Heater | 150 | 15,000 |
| 25 | Toilet & Bathroom Facilities | 150 | 170,000 |
| 26 | Beds & Linens etc. | 1 lot | 200,000 |
| 27 | Bedroom Furnitures | 1 lot | 200,000 |
| 28 | Restaurant Furnitures & Accessories | 1 lot | 100,000 |
| 29 | Other Furnitures | 1 lot | 100,000 |
| 30 | Saloon Car | 2 | 40,000 |
| 31 | Mini Bus | 2 | 60,000 |
| 32 | Pick-up | 2 | 40,000 |
| 33 | Cooking Facilities | 1 lot | 25,000 |
| 34 | Dinner Set, Tea Set & Crockery etc. | 3 lots | 50,000 |
| | SUB-TOTAL OF SHEET NO. ( 1 ) | | 1,776,000 |

MACHINERIES, EQUIPMENTS AND MATERIALS FOR CONSTRUCTION

**Sheet No. ( 2 )** **Exhibit No. I**

| Sr. No. | PARTICULARS | UNIT | QTY | AMOUNT IN US$ |
|---|---|---|---|---|
| 35 | Cutlery etc. | lots | 2 | 10,000 |
| 36 | Washing Machine | unit | 4 | 10,000 |
| 37 | Other Cleaning Equipments | lot | 1 | 20,000 |
| 38 | Freezer System | lot | 1 | 50,000 |
| 39 | Launderette | set | 1 | 50,000 |
| 40 | General Appliances | lot | 1 | 20,000 |
| 41 | Safe | unit | 1 | 10,000 |
| 42 | General Fixture & Hardware | lot | 1 | 10,000 |
| 43 | Swimming Pool Facilities | lot | 1 | 100,000 |
| 44 | Beauty Parlor | unit | 1 | 70,000 |
| 45 | Karaoke Facilities | lot | 1 | 70,000 |
| 46 | Security Alarm System | set | 1 | 15,000 |
| 47 | Golf Cart | unit | 6 | 30,000 |
| 48 | Piano | unit | 1 | 30,000 |
| 49 | Pool Table | unit | 1 | 20,000 |
| 50 | Structural Materials | | | 1,830,000 |
| 50.1 | Mild Steel Rod | M. Ton | 400 | |
| 50.2 | Cement | M. Ton | 1600 | |
| 50.3 | M.S. Bolt and Nut | M. Ton | 3 | |
| 50.4 | M.S. Strap | M. Ton | 3 | |
| 50.5 | Fuji Steel Roofing Sheet 6' / 7' /8' | Shcct | 5100 | |
| 50.6 | Fuji Steel Hif & Ridge Capping 8' | Sheet | 680 | |
| 50.7 | Fuji Steel Valley Gutter 8' | Sheet | 210 | |
| 50.8 | Roofing Nail and Washer | Nos. | 105000 | |
| 50.9 | 28g G.I. Plain Sheet | Sheet | 40 | |
| 50.10 | 24g G.I. Plain Sheet | Sheet | 30 | |
| 51 | **Decoration Materials** | | | 500,000 |
| 51.1 | Curtain | Sq. ft | 15000 | |
| 51.2 | Carpet | Sq. ft | 46000 | |
| 51.3 | Fine Art Carving and Painting | lot | 2 | |
| 51.4 | Wall Putty, Plastic Emulsion Paint, Oil Paint | gal | 4000 | |
| 51.5 | Matt Polish, Unithene Lacquer & Thinner | gal | 1300 | |
| 51.6 | Sand Paper | lot | 3 | |
| | SUB-TOTAL OF SHEET NO. ( 2 ) | | | 2,845,000 |

MACHINERIES, EQUIPMENTS AND MATERIALS FOR CONSTRUCTION

**Sheet No. ( 3 )** **Exhibit No. I**

| Sr. No. | PARTICULARS | UNIT | QTY | AMOUNT IN US$ |
|---|---|---|---|---|
| 54 | **Architectural Materials** | | | 379,000 |
| 54.1 | Glazed Ceramic Tile | No. | 75000 | |
| 54.2 | White Cement | M. Ton | 2 | |
| 54.3 | 4' x 4' Asbestos Cement Plain Sheet | Sheet | 4000 | |
| 54.4 | 8' x 4' Gypsum Board | Sheet | 450 | |
| 54.5 | Door Lock | No. | 300 | |
| 54.6 | 4" Butt Hinges | No. | 2150 | |
| 54.7 | Brass Handle 6" | No. | 650 | |
| 54.8 | Tower Bolt | No. | 1250 | |
| 54.9 | 3/16" Glass | Sq. ft | 7500 | |
| 54.10 | Aluminum Curtain Rail | R. ft | 1200 | |
| 54.11 | Wood Screw | lot | 3 | |
| 54.12 | Door Stopper | No. | 330 | |
| | SUB-TOTAL OF SHEET NO. ( 3 ) | | | 379,000 |
| | SUB-TOTAL OF SHEET NO. ( 1 ) | | | 1,776,000 |
| | SUB-TOTAL OF SHEET NO. ( 2 ) | | | 2,845,000 |
| | TOTAL | | | 5,000,000 |



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊
ဝန်ကြီးရုံး၊

စာအမှတ်၊ ၁၈ ယ ၉၇/ ၂၁၃၁

ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဇူလိုင် လ ၁၁ ရက်။

အကြောင်းအရာ။ ဆောက်လုပ်ခွင့်ပြုမိန့်ရရှိပြီးသော ဟိုတယ်၊ တည်းခိုရိပ်သာ များ ဆက်လက် ဆောင်ရွက်ရန်ကိစ္စ။

(၁) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စိုက်ပျိုးရေး သုတေသနဝင်း၊ ညောင်ဦးမြို့နယ်ရှိ၊ ပုဂံဂေါက်ကွင်းဟိုတယ်အား၊ (၂၂-၇-၉၇) ရက်နေ့တွင် ဆောက်လုပ်ခွင့်ပြုမိန့်ရမှတ်ပေးပြီးဖြစ်၍၊ ယခု မူလ အတိုင်း အဦး ဆောက်လုပ် ရန်အတွက်စည်ပင်သာယာရေး ကော်မတီနှင့်ညှိနှိုင်း ဆောင်ရွက်ရန်နှင့်ဖြည့်ဆည်းမှုများ တည်းခိုရန်အဆင်သင့်ဖြစ်ပါက၊ လိုင်စင်ရရှိရေးအတွက်၊ ဝန်ကြီးရုံးသို့ပြန်လည်တင် ပြရန် အကြောင်းကြားပါသည်။

ဝန်ကြီး (ကိုယ်စား)
(ဗိုလ်မှူးလေး၊ ရုံးအဖွဲ့မှူး)

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ကမ္ဘာအေးဘုရားလမ်း၊ သီရိမင်္ဂလာလမ်းသွယ်၊
ရန်ကုန်မြို့။

မိတ္တူကို-
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန။

သတ် /-

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ဟိုတယ်နှင့်တည်းခိုရိပ်သာတည်ဆောက်ရေးလုပ်ငန်း

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၀၃၇၁ ၁၉၉၇ ခုနှစ်၊ ဖေဖော် လ ၂၂ ရက်။

မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေ ပုဒ်မ ၁၁ အရ ဤခွင့်ပြုမိန့်ကို ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနက ထုတ်ပေးလိုက်သည်–

(က) လုပ်ငန်းရှင်အမည် လယ်ယာစိုက်ပျိုးရေးဝန်ကြီးဌာန

(ခ) အမျိုးသားမှတ်ပုံတင်အမှတ်

(ဂ) နိုင်ငံသား

(ဃ) နေရပ်လိပ်စာ အပြည့်အစုံ ကမ္ဘာအေးဘုရားလမ်း၊ သံလိုပဂိုလ်လမ်းသွယ် ရန်ကုန်မြို့

(င) အဖွဲ့အစည်းအမည် ပုဂံ ဂေါက်ကွင်း ဟိုတယ်

(စ) အဖွဲ့အစည်း လိပ်စာအပြည့်အစုံ မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း သုတေသနဝင်း ညောင်ဦး မြို့နယ်

(ဆ) ရင်းနှီးမြှုပ်နှံမည့်လုပ်ငန်းအမျိုးအစား ဟိုတယ်

(ဇ) မတည်ငွေရင်း

(၁) ကျပ်ငွေ ၆၀၀၀၀၀၀၀၀/-

(စာဖြင့်) ကျပ်ခြောက်ထောင်သိန်းတိတိ

(၂) ဒေါ်လာ မရှိပါ

(စာဖြင့်) မရှိပါ

(ဈ) လုပ်ငန်းဆောက်လုပ်/ပြုပြင် မွမ်းမံမည့်ကာလ (၁) နှစ်

(ည) လုပ်ငန်းဆောက်လုပ် / ပြုပြင် မွမ်းမံမည့်နေရာ မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း၊ သုတေသနရုံးဝင်း ညောင်ဦး မြို့နယ်

(ဋ) လုပ်ငန်းဆောက်လုပ် / ပြုပြင် မွမ်းမံမည့်မြေဧရိယာ (၈) ဧကနီးပါး

(ဌ) အဆောက်အအုံပမာဏ (၁) အထပ် ၁-ထပ်ပတ်လုံး နှင့်တစ်ထပ်ခုနစ်လုံး

(၂) အခန်း (၁၀၂) ခန်း

၂၂ / ၂ / ၉၇

ဝန်ကြီး

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

 မြန်မာယူနီဗာဆယ်ဘဏ်လီမိတက်

**MYANMAR UNIVERSAL BANK LTD.**

81, Thein Phyu Street, Botataung Township, Yangon, Myanmar.
Tel : 297337, 297339, 297182      Fax : 245449

---

Dated : 30 th July 1997.

## TO WHOM IT MAY CONCERN

This is to certify that U San Tun Aung has maintained a current account with us and the transactions are satisfactory .

Since he is a reliable and reputable gentleman, we sometimes extend overdraft facility for a short period.

( HLA SHWE )

General Manager

ဘုရင့်နောင်ဘဏ်ခွဲ
အမှတ် (က)၊ ၈၂ (အေ) ကံ့ကော်လမ်းမကြီး
ဘုရင့်နောင်မွဲရုံ၊ ရန်ကုန်မြို့
ဖုန်း ၀၁-၆၈၀၃၉၃၊ ဖက်စ် ၀၁-၆၈၀၆၆၅

မကွေးဘဏ်ခွဲ
အမှတ် (၄၁၂)၊ သုခိတာလမ်း၊ ရန်ကျော်ရပ်
မကွေးမြို့။ ဖုန်း ၀၆၃-၂၂၀၃၅
၀၆၃-၂၂၁၅၅၊ ဖက်စ် ၀၆၃-၂၂၁၆၆

ပခုက္ကူဘဏ်ခွဲ
အမှတ် ၁၀၄၊ မြို့မလမ်းနှင့် ဂန္ဓာရုံလမ်းထောင့်
(၇)ရပ်ကွက်၊ ပခုက္ကူမြို့
ဖုန်း ၀၆၂-၂၂၈၇၀၊ ဖက်စ် ၀၆၂-၂၂၀၀၀

မန္တလေးဘဏ်ခွဲ
အမှတ် ၃၇၈၊ ၃၁ နှင့် ၃၂ လမ်းကြား
၈၃ လမ်း၊ မန္တလေးမြို့။ ဖုန်း ၀၂-၃၆၀၇၉
၀၂-၃၆၀၀၀၊ ဖက်စ် ၀၂-၃၆၀၀၀




မြန်မာယူနီဗာဆယ်ဘဏ်လီမိတက်

**MYANMAR UNIVERSAL BANK LTD.**

81, Thein Phyu Street, Botataung Township, Yangon, Myanmar.
Tel : 297337, 297339, 297182 Fax : 245449


Dated : 30 th July 1997.

**TO WHOM IT MAY CONCERN**

This is to certify that the S.V Holding Co: Ltd. has maintained a current account with us and the transactions are satisfactory.

( HLA SHWE )

General Manager

# S. V. HOLDING CO., LTD.

NO. 57, BUILDING (B), SHAN STREET, SANCHAUNG TOWNSHIP, YANGON, MYANMAR. TEL:296375

ဒါရိုက်တာအဖွဲ့အစည်းအဝေးအမှတ်စဉ် ၂/၉၇-၉၈
ကောက်နုတ်ချက်

နေ့စွဲ – ၃၀-၆-၉၇

အကြောင်းအရာ ။ ။ ညောင်ဦးမြို့နယ်ရှိ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနပိုင်၊ လယ်ယာစိုက်ပျိုးရေး သုတေသနဝင်းအတွင်းရှိ မြေကွက်အားငှားရမ်း၍ ဟိုတယ်ဆောက်လုပ်ရန်ကိစ္စ။

ညောင်ဦးမြို့နယ်၊ လယ်ယာစိုက်ပျိုးရေးသုတေသနဝင်းအတွင်း တည်ရှိသော လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနပိုင် မြေကွက်ကို S.V.Holding Co.,Ltd.မှ မြေငှားရမ်း၍ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် အဆိုပါမြေကွက်ကို S.V.Holding Co.,Ltd. မှ ၁၀၀ % ရင်းနှီးမြှုပ်နှံမှုပြုလုပ်ပြီး S.V.Resort Co.,Ltd.. တည်ထောင်ကာ အခန်း (၁၀၂) ခန်းပါ ဟိုတယ်အဆောက်အအုံ ဆောက်လုပ်ရန် သဘောတူညီကြပါသည်။

အဆိုပါ S.V.Resort Co.,Ltd နှင့်ပတ်သက်၍ ရုံးကိစ္စအပါအဝင်၊ ကိစ္စအဝဝ ကိုကို ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်နိုင်ရန် ဥက္ကဋ္ဌ ဦးစိန်ထွန်းနှင့် ဒါရိုက်တာဦးစံထွန်းအောင် နှစ်ဦးအနက်မှ တစ်ဦးဦးက ဆောင်ရွက်ရန် သဘောတူညီကြပါသည်။

S.V.Resort Co., Ltd. တည်ထောင်စဉ်ကာလအတွင်း အမည်ခံထည့်ဝင်သူအဖြစ် ဒါရိုက်တာ ဦးစံထွန်းအောင်ကို အသုံးပြုခြင်းအား သဘောတူညီပါသည်။

U Sein Tun
Director
S.V HOLDING CO.; LTD.



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ....... ၂၀၁ ....... /၁၉၉၆–၁၉၉၇

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ... အက်(စ်)၊ ဗွီ၊ ဟိုးလ်ဒင်း ... ကုမ္ပဏီ လီမိတက် ... အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၆ ခုနှစ်၊ ... ဇွန် ... လ ... ၁၂ ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( သိင်္ဂီတင် )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

INDUSTRI... ...TION

* * *

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND
ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. ....... 201 ....... of 1996 - 19 97

*I hereby certify that* S.V. HOLDING COMPANY LIMITED ....... *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* ....... TWELFTH ....... *day of* ....... JUNE ....... *one thousand nine hundred and* ....... NINETY SIX

စက်ရုံအလုပ်ရုံတည်ရှိရာဒေသရပ်သည်၊ စက်မှု
လက်မှုနယ်မြေဖြစ်စေရမည်၊ (ပို့ဆောင်ရေး)
လုပ်ငန်းရပ်ကွက်နှင့်ကင်းလွတ်ရသော ရပ်ကွက်
ဖြစ်စေရမည်။

( THEINGI TIN )
Registrar of Joint Stock Companies
Companies Registration Office